

ပုံစံ (မနသ - ၂)

၁၃-၆-၂၀၁၂

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၄၉ / ၂၀၁၂ ။ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၂၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကျော်လွင်

(ခ) အဘ အမည် ဦးအလင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၆/ကသန(နိုင်) ၀၀၄၇၃၈

(ဃ) နေရပ်လိပ်စာ အမှတ် (၂၈၀)၊ ပိတောက်လမ်း၊ အဏ္ဏဝါရပ်၊ ကော့သောင်းမြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Than Phyo Thu Mining Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ)ဦးပိုင်အမှတ်(၁၇၅/၁၇၆)၊ ကွင်းအမှတ် (၆၉–ရွှေပြည်သာ ရန်ကြီးအောင်လမ်း၊ ရွှေပြည်သာရပ်၊ကော့သောင်းမြို့၊ တနင်္သာရီတိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၄၃၆၉.၂၆ (သန်း) (အမေရိကန်ဒေါ်လာ ၆.၃၈ သန်းအပါအဝင် စုစုပေါင်း ကျပ် လေးထောင်သုံးရာ ခြောက်ဆယ့်ကိုးသန်း၊ နှစ်သိန်း၊ခြောက်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၇ /၂၀၁၂ (မနသ)
နေပြည်တော်၊ ၁၃၇၄ ခုနှစ်၊ ပထမဝါဆိုလဆန်း [illegible] ရက်
(၂၀၁၂ ခုနှစ် ၊ ဇွန် လ ၂၉ ရက်)

၁။ တနင်္သာရီတိုင်း ဒေသကြီးအစိုးရ၊ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာနနှင့် မြန်မာကုမ္ပဏီ ဖြစ်သော Than Phyo Thu Mining Co.,Ltd. တို့သည် ဦးပိုင်အမှတ် (၁၇၅/၁၇၆)၊ ကွင်းအမှတ်(၆၉ရွှေပြည်သာ)၊ ရန်ကြီးအောင်လမ်း၊ ရွှေပြည်သာရပ်၊ ကော့သောင်းမြို့၊ တနင်္သာရီ တိုင်းဒေသကြီးတွင် ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်းအား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၇-၆-၂၀၁၂) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၂၀၁၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅)၊ ပုဒ်မ၁၀ အရ အပ်နှင်းထား သော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Than Phyo Thu Mining Co.,Ltd. မှ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်းအား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၈၄၉/၂၀၁၂ ကို ထုတ်ပေးလိုက်သည်။

၂။ Than Phyo Thu Mining Co.,Ltd. အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေ ခွန် ကင်းလွတ်ခွင့် နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန် လိုက် သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြ လျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေ ဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေ ခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီး နောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

than phyo thu(permit)

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ် ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိ နိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ည)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး ၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်း သည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ)နှင့်(ည) အရ ပြည်ပမှ တင်သွင်း သည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ တင်သွင်း မည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည် ။

၄။ Than Phyo Thu Mining Co.,Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၅။ Than Phyo Thu Mining Co.,Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ တနင်္သာရီ တိုင်းဒေသကြီးအစိုးရ ၊လျှပ်စစ်နှင့်စက်မှုလက်မှု ဝန်ကြီးဌာနနှင့် Than Phyu Thu Mining Co.,Ltd. တို့ သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီး ဖြစ်သော BOT ပဋိညာဥ် စာချုပ်ပါ စည်းမျဥ်း စည်းကမ်း များအတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

၇။ Than Phyo Thu Mining Co.,Ltd. သည် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချသည့် လုပ်ငန်း ဆောင်ရွက်ခြင်း နှင့် စပ်လျဥ်း၍ အမှတ်(၁)လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန မှ အခါ အားလျော်စွာ ထုတ်ပြန်သည့် အမိန့်နှင့် ညွှန်ကြားချက်များ ကို လိုက်နာရမည်။

၈။ Than Phyo Thu Mining Co.,Ltd. အား အောက်ပါ Exemption များကို ခံစားခွင့်ပြုသည်။

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် ခံစားပြီးနောက် အရင်းကြေ ကာလ မတိုင်မီ ကာလများအတွက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ပြုရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်အား (၆၀) နှစ် ခွင့်ပြုရန်နှင့် နောက်ထပ် (၅) နှစ် (တစ်) ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးခွင့်ပြုရန်။

၉။ Than Phyo Thu Mining Co.,Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံ ကြေး ကျပ်သိန်း (၅၀၀)(ကျပ်သိန်းငါးရာ)နှင့် စပ်လျဥ်း၍ BOT ပဋိညာဥ် စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာငါးဆယ်) ကို လည်းကောင်း၊ တည်ဆောက်ရေး ကာလပြီးနောက် လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင် ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀) (ကျပ်သိန်းနှစ်ရာငါးဆယ်)ကိုလည်း ကောင်း ပေးအပ်ရမည်။ တည်ဆောက်ရေး ကာလမှာ လုပ်ငန်းစတင်သည့်နေ့ (BOT ပဋိညာဥ်စာချုပ် လက်မှတ်ရေးထိုးသည့်နေ့)မှစ၍ (၂)နှစ်ဖြစ်သည်။ စက်ရုံ၏လျှပ်စစ် ဓါတ်အား ပေး စက်များအနက် ပထမဆုံးစက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် ထုတ်လုပ် ရောင်းချပေးသည့် နေ့ကို စီးပွားဖြစ် စတင်ထုတ်လုပ်သည့်နေ့ဟု သတ်မှတ်သည်။

၁၀။ Than Phyo Thu Mining Co.,Ltd. သည် လျှပ်စစ်စီမံကိန်း အတွက် ပြည်တွင်း/ ပြည်ပ စီမံကိန်း ချေးငွေ များချေးယူခြင်းတွင် သက်ဆိုင်ရာဌာန အဖွဲ့အစည်းများနှင့် သီးခြား ချုပ်ဆို သည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်း သတ်မှတ်ချက်များ၊ ချေးငွေ၊ အတိုး နှင့် ချေးငွေ ပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ တိတိကျကျ လိုက်နာ ဆောင်ရွက်ရ မည်။

၁၁။ Than Phyo Thu Mining Co.,Ltd. သည် လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချရာတွင် နိုင်ငံတော်/ အမှတ် (၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားဖြင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချ ရမည်။

၁၂။ ပဋိညာဥ် စာချုပ် ရပ်စဲသည့်အခါ သို့မဟုတ် စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ စာချုပ်ပါ မြေနှင့် လျှပ်စစ်စီမံကိန်း၌ ရင်းနှီးမြှုပ်နှံထားသော ပစ္စည်းများ၊ တပ်ဆင်ထား သော စက် ကိရိယာ၊ အဆောက်အဦများကို လုပ်ငန်းလုပ်ကိုင်သူ Than Phyu Thu Mining Co.,Ltd. က

ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ လုပ်ငန်းခွင့်ပြုသူ (တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့) ထံ လွှဲပြောင်းပေးရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၁၄။ Than Phyo Thu Mining Co.,Ltd. သည် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနများမှ အခါအားလျော်စွာ ထုတ်ပြန်သည့် အမိန့် နှင့်ညွှန်ကြားချက်များကို လိုက်နာရမည်။

၁၅။ Than Phyo Thu Mining Co.,Ltd. သည် စီမံကိန်းလုပ်ငန်းအတွက် သုံးစွဲမည့် ပစ္စည်းများအပေါ် Monitor လုပ်ထားရန်နှင့် ပတ်ဝန်းကျင် ထိခိုက်နစ်နာမှုများ ရှိပါက လျော်ကြေးတောင်းခံလာမည့် ပြဿနာများ ဖြစ်ပေါ်လာနိုင်သဖြင့် တည်ဆဲသဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ နှင့်အညီ ဆောင်ရွက်ရန် နှင့် စစ်ဆေးခံနိုင်ရမည်။

၁၆။ Than Phyo Thu Mining Co.,Ltd. မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင် သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးတို့ အတွက် အဆိုပြုချက် တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၇။ Than Phyo Thu Mining Co.,Ltd. သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ Than Phyo Thu Mining Co.,Ltd. သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ နှင့် အခြား ဌာနဆိုင်ရာများ၏ ဥပဒေနှင့် အညီ မှတ်ပုံတင်နှင့် လုပ်ငန်းလိုင်စင်များ ရယူဆောင်ရွက်ရမည်။

၁၉။ Than Phyo Thu Mining Co.,Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၁။ Than Phyo Thu Mining Co.,Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၂၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က)/မ-၁၂၀၉/၂၀၁၂(၈၄၅၆-ဿ)

ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ ဇွန် လ ၂၉ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှု ဝန်ကြီးဌာန

အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ တနင်္သာရီတိုင်းဒေသကြီး

တနင်္သာရီတိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Than PhyoThu Mining Co.,Ltd.




UM-712
27/5

DG 27/5

တ န သ်ာ ရီ တိုင်း ဒေ သ ကြီး အ စိုး ရ အ ဖွဲ့ ရုံး
ထားဝယ်မြို့
စာအမှတ်၊ ၁၂၅၅/ ၄၆၇/ ၄-၆၇/ အစရ(တနသ်ာရီ)
ရက် စွဲ ၊ ၂၀၁၂ ခုနှစ် ၊ မေလ ၁၅ ရက်



သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိရေး စီမံဆောင်ရွက်ထားမှု အခြေအနေ**

ရည် ညွှန်း ချက် ။ သန်းဖြိုးသူကုမ္ပဏီလီမိတက်၏ (၂၇.၄.၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၀၀၉/ ရနပ၊ သဖသ၊ ၂၀၁၂

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့်သန်းဖြိုးသူ သတ္တုလုပ်ငန်းကုမ္ပဏီလီမိတက်တို့သည် ကော့သောင်းကျောက်မီးသွေးသုံး ဓာတ်အားပေးစက်ရုံ စီမံကိန်းအား B.O.T စနစ်အခြေခံဖြင့် အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် နားလည်မှု စာချွန်လွှာ(MOU) ကို ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ဖြင့် (၂၆.၁.၂၀၁၂)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပြီး (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်လွှဲပြောင်းပေးခြင်း)စနစ် ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ပဋိညာဉ်စာချုပ်အား(၉.၄.၂၀၁၂) ရက်နေ့တွင် တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာနနှင့် သန်းဖြိုးသူသတ္တုလုပ်ငန်းကုမ္ပဏီ လီမိတက် တို့မှ နှစ်ဦးသဘောတူလက်မှတ်ရေးထိုး ဆောင်ရွက် ခဲ့ကြပါသည်။

၂။ ကော့သောင်းကျောက်မီးသွေးသုံးဓာတ်အားပေးစက်ရုံသည် စီမံကိန်းလုပ်ငန်းအတွက် သုံးစွဲမည့်ပစ္စည်းများအပေါ် Monitor လုပ်ထားနိုင်ရေးအတွက်ပစ္စည်းများရောက်ရှိလာပါက တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အချိန်နှင့်တပြေးညီတင်ပြအစစ်အဆေးခံယူသွားမည် ဖြစ်ပြီး သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိရန် အောက်ပါအတိုင်းအဆင့်(၆)ဆင့်ဖြင့် စီမံဆောင်ရွက် ထားရှိပါသည်-

(က) ခေတ်မီကျောက်မီးသွေးပြာဖမ်းစက်တပ်ဆင်အသုံးပြုခြင်း
(ခ) ဆာလဖာဒိုင်အောက်ဆိုဒ်($SO_2$) အထွက်နည်းစေရန်စီမံထားခြင်း
(ဂ) စံချိန်မီ မီးခိုးတိုင်တပ်ဆင်ထားခြင်း
(ဃ) စိုက်ခင်းများထူထောင်ပေးခြင်း
(င) သဘာဝပတ်ဝန်းကျင်နှင့်လူမှုပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးစူးစမ်းလေ့လာမှု များပြုလုပ်ရန် စီမံဆောင်ရွက်ခြင်းများ
(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့်အညီ ဆောင်ရွက်ခြင်း

၃။ သို့ဖြစ်ပါ၍ ကော့သောင်းကျောက်မီးသွေးစက်ရုံသည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် ဒေသခံပြည်သူများဆုံးရှုံးနစ်နာမှုမရှိစေရေး၊ ဒေသဖွံ့ဖြိုးတိုးတက်ရေးကို စနစ်တကျစီမံဆောင်ရွက်

ထားရှိသည့်အတွက် အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပါက တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်းညှိနှိုင်း အကြောင်းကြား အပ်ပါသည်။

**ပူးတွဲပါ -** သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးဆောင်ရွက်ထားရှိမှုများ (၁)စုံ

၁၅/၅/၂၀၁၂

ဝန်ကြီးချုပ်(ကိုယ်စား)

( ဒေါက်တာဝင်းအောင် ၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး )

မိတ္တူကို

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ နေပြည်တော်

လက်ခံစာတွဲ

မျှောစာတွဲ

**ကောသောင်းကျောက်မီးသွေးသုံး လျှပ်စစ်ဓါတ်အားပေးစက်ရုံတွင် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေး စီမံဆောင်ရွက်ထားရှိမှုများ**

**(၁) ခေတ်မီကျောက်မီးသွေးပြာဖမ်းစက်တပ်ဆင်အသုံးပြုခြင်း**

ကျောက်မီးသွေးလောင်စာအား မီးလောင်ကျွမ်းစေရာ၌ ၁၀%ခန့်မှာ မီးမလောင်ဘဲ ကျန်ရှိမည်ဖြစ်ပါသည်။၎င်း ၁၀% အနက်မှ Ash(၂.၅%)ခန့်မှာ ဘွိုင်လာအောက်ခြေမှ ချော်အဖြစ်ထွက်ရှိလာပြီး၎င်းကိုစနစ်တကျစုဆောင်းသယ်ယူ၍ ဒေသအတွင်းလမ်းခင်းခြင်း၊ ကွန်ကရစ်တုံးပြုလုပ်ခြင်းတို့တွင်အသုံးပြုသွားပါမည်။ကျန်ရှိနေသောမီးမလောင်သည့် Ash( ၇.၅%)မှာကျောက်မီးသွေးပြာ (Fly Ash)အဖြစ် ဘွိုင်လာမီးထိုးခန်းမှ ထွက်ရှိလာမည်ဖြစ်ရာ ၎င်းကျောက်မီးသွေးပြာများအား Eletro Static Precipitator မှ ဆွဲယူထားနိုင်မည်ဖြစ်ပါသည်။ မီးခိုးနှင့်အတူပါရှိလာသည့် ဖုန်၊ သဲနှင့် ပြာများ၏(၉၉.၄%)ကို E.S.P ကဆွဲယူထားနိုင်မည်ဖြစ်သဖြင့် လေထုအတွင်းသို့(၀.၆%) မျှသာရောက်ရှိမည်ဖြစ်ပါသည်။ ထွက်ရှိလာမည့် Smoke and Dust ပမာဏမှာ 50mg/ $Nm^3$ နှင့် $SO_2$ ပမာဏမှာ 400mg/$Nm^3$ သာဖြစ်သဖြင့် နိုင်ငံတကာစံနှုန်းဖြစ်သည့် Smoke and Dust ပမာဏ 200mg/$Nm^3$ နှင့် $SO_2$ ပမာဏမှာ 2100mg/$Nm^3$ အတွင်းရှိမည်ဖြစ်ပါသည်။

**(၂) ဆာလဖာဒိုင်အောက်ဆိုဒ် ($SO_2$) အထွက်နည်းစေရန်စီမံထားခြင်း**

ပုံမှန်အားဖြင့် ကျောက်မီးသွေးတွင်ကန့်(Sulphur) ၀.၉% ခန့်ပါရှိသော်လည်း သန်းဖြိုးသူစက်ရုံ၌အသုံးပြုမည့် ကျောက်မီးသွေးနမူနာအား ဓာတ်ခွဲစမ်းသပ်ရာကန့်(Sulphur)၀.၆% ပါရှိသဖြင့်အသုံးပြုရန် အထူးသင့်တော်ပါသည်။ ကျောက်မီးသွေးအားထုံးကျောက် ($CaCo_3$) နှင့် (၁၀၀၀:၁)အချိုးကျရောစပ်၍ ဘွိုင်လာမီးလောင်ခန်းအတွင်းမီးရှို့စေပြီး Calcium Sulphate ($CaSo_4$) အဖြစ် ဘွိုင်လာအောက် ခြေမှထွက်ရှိစေပါမည်။ ၎င်း Calcium Sulphate ($CaSo_4$) အား ချော်များနှင့်အတူ စနစ်တကျစုဆောင်းသယ်ယူ၍ ဒေသအတွက်အကျိုးရှိမည့်နေရာများတွင် အသုံးပြုသွားပါမည်။ ကျောက်မီးသွေးနှင့် ထုံးကျောက်အချိုးကျရောစပ်၍ မီးရှို့ခြင်းဖြင့် ($SO_2$) ဆာဖာဒိုင်အောက်ဆိုဒ်ဓာတ်ငွေ့ထွက်ရှိမှုကို ၉၇% လျော့ကျစေနိုင်ပါသည်။

**(၃) စံချိန်မီ မီးခိုးခေါင်းတိုင်စိုက်ထူတပ်ဆင်ထားခြင်း**

ဘွိုင်လာမှထွက်ရှိမည့် Fule Gas များကို E.S.Pသို့ ဖြတ်သန်းစေပြီးနောက် မီးခိုးခေါင်းတိုင်မှ တစ်ဆင့်စွန့်ထုတ်ပါမည်။ စက်ရုံ၏အရွယ်ပမာဏအရအချင်း(၂.၅)မီတာနှင့် အမြင့်(၄၀) မီတာရှိ မီးခိုးခေါင်းတိုင်တပ်ဆင်အသုံးပြုလျှင် လုံလောက်မှုရှိပါသည်။သို့သော် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် အလေးထားသောအားဖြင့်(၆၅)မီတာအမြင့်ရှိ မီးခိုးခေါင်းတိုင်တပ်ဆင်အသုံးပြုသွားရန် စီမံထားရှိပါသည်။

(၄) **စိုက်ခင်းများထူထောင်ပေးခြင်း**

သန်းဖြိုးသူလျှပ်စစ်ဓာတ်အားပေးစက်ရုံမှထွက်လာမည့် မီးခိုးများကြောင့်လေထုညစ်ညမ်းမှု (Air Pollution) မဖြစ်စေရန်အတွက် စက်ရုံနှင့် (၅)မိုင်ခန့်အကွာ ရွှေပြည်စိုးကျေးရွာအနီးတွင် ရာဘာစိုက်ခင်း ဧက(၃၀၀)ကို စိုက်ပျိုးပေးထားပြီးဖြစ်ပါသည်။ ၎င်းနေရာ၌ ဧက(၂၀၀)ကို ထပ်မံစိုက်ပျိုးပေးသွားပါမည်။ စက်ရုံမှ(၂၂)မိုင်အကွာ မလိဝမ်းကျေးရွာအနီးတွင် ရာဘာစိုက်ခင်းဧက(၅၀၀)စိုက်ပျိုးပေးထားပြီး၎င်းနေရာ၌ဧက(၅၀၀)ထပ်မံတိုးချဲ့စိုက် ပျိုးပေးသွားမည်ဖြစ်ပါသည်။ စက်ရုံမှ(၂၉)မိုင်အကွာခမောက်ကြီးကျေးရွာအနီးတွင် ရာဘာစိုက်ခင်းဧက(၄၅၀) စိုက်ပျိုးထားရှိပြီး၎င်းနေရာ၌ ရာဘာစိုက်ခင်းဧက (၁၅၅၀) ထပ်မံစိုက်ပျိုးပေးသွားမည်ဖြစ်ပါသည်။ ၎င်းအပြင် စက်ရုံမှ မိုင်(၁၀၀၀)ခန့်အကွာ ကရသူရိမြို့အနီး၌ ရာဘာစိုက်ခင်းဧက(၉၉၀၀၀)ထပ်မံစိုက်ပျိုးပေးရန်လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံးနှင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ထံ လုပ်ထုံးလုပ်နည်းနှင့်အညီ တင်ပြလျှောက်ထားပြီးဖြစ်ပါသည်။ သို့ဖြစ်ပါ၍ လုပ်ကိုင်ခွင့်ရရှိပြီး မြေဧက (၃၅၀၀၀)မှ ဧက (၁၂၅၀)ကို ရာဘာစိုက်ခင်းထူထောင်စိုက်ပျိုးပေးထားပြီး ကျန်ဧက(၂၂၅၀) တွင် ဆက်လက်စိုက်ပျိုးလျှက်ရှိကာ နောက်ထပ်ဧက(၉၉၀၀၀) ထပ်မံစိုက်ပျိုးပေးသွားရန် စီမံထားရှိပါသည်။

( ၅) **သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေး စူးစမ်းလေ့လာမှုများပြုလုပ်ရန်စီမံဆောင်ရွက်ခြင်း**

ကော့သောင်းမြို့တွင်တည်ဆောက်မည့် စက်တပ်ဆင်အား(၈)မဂ္ဂါဝပ်ရှိ ကျောက်မီးသွေးလောင်စာသုံးလျှပ်စစ်ဓာတ်အားပေး စက်ရုံတည်ရှိခြင်းကြောင့်ဒေသအတွင်း သဘာဝပတ်ဝန်းကျင်နှင့်လူမှုပတ်ဝန်းကျင်ကို ဆိုးကျိုးသက်ရောက်မှုမရှိစေရေးလေ့လာစူးစမ်းမှုများပြုလုပ်ပြီးကြိုတင်ကာကွယ်မှုများဆောင်ရွက်သွားပါမည်။

( ၆) **သဘာဝပတ်ဝန်းကျင်ထိခိုက်မှုရှိ/ မရှိစူးစမ်းလေ့လာခြင်း**

အောက်ပါအတိုင်းဆောင်ရွက်ရန် စီမံထားပြီးဖြစ်ပါသည်-

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ သုတေသနတက္ကသိုလ်ဖြစ်သော ရန်ကုန်တက္ကသိုလ်နှင့် မိမိတို့ကုမ္ပဏီအကြားနားလည်မှုစာချွန်လွှာလက်မှတ်ရေးထိုးပြီး ရန်ကုန်တက္ကသိုလ်မှပညာရှင်များ၊ ပါရဂူဘွဲ့ကျမ်းပြုသူများနှင့် ပူးပေါင်းကာဒေသရင်း၌ကျက်မျိုးစိတ်များ၊နို့တိုက်သတ္တဝါမျိုးစိတ်များနှင့် တွားသွားသတ္တဝါမျိုးစိတ်များကိုသုတေသန

ပြုပြီး၎င်းတို့အပေါ်အကျိုးသက်ရောက်မှုရှိ/ မရှိလေ့လာပါမည်။ဆိုးကျိုးသက်ရောက်မှုရှိပါကကြိုတင်ကာကွယ်ရှောင်လွှဲနိုင်မည့် နည်းလမ်းများရှာဖွေကာ ပညာရှင်များ၏ အကြံပြုချက်များနှင့် အညီဖြေရှင်းပြီး စီမံဆောင်ရွက်သွားပါမည်။

(ခ) ရန်ကုန်တက္ကသိုလ်သတ္တဗေဒဌာနနှင့် မော်လမြိုင်တက္ကသိုလ်အဏ္ဏဝါသိပ္ပံဌာန မှပညာရှင်များ၊ပါရဂူဘွဲ့ကျမ်းပြုသူများပူးပေါင်းအဖွဲ့ဖြင့် ကျောက်သောင်းဒေသရှိပါချန်မြစ်နှင့် ကပ္ပလီပင်လယ်ကမ်းရိုးတန်းမှ ဒေသမျိုးရင်းရေသတ္တဝါများအား သုတေသနပြုပြီး ၎င်းတို့အပေါ်ဆိုးကျိုးသက်ရောက်မှုရှိ / မရှိလေ့လာပါမည်။ ဆိုးကျိုးသက်ရောက်မှုရှိပါကကြိုတင် ကာကွယ်နိုင်မည့် နည်းလမ်းများရှာဖွေကာပညာရှင်များ၏အကြံပြုချက်နှင့်အညီလိုအပ်သလို ကာကွယ်ဆောင်ရွက် သွားပါမည်။

(ဂ) ရန်ကုန်တက္ကသိုလ်ရုက္ခဗေဒဌာနမှ သဘာဝပတ်ဝန်းကျင်လေ့လာရေး ပညာရှင်များ၊ မဟာသုတေသနကျမ်းပြုသူများနှင့် ပူးပေါင်းကာကျောက်သောင်းဒေသတွင် ရေထုညစ်ညမ်းမှု (Water Pollution) လေထုညစ်ညမ်းမှု (Air Pollution) အပါအဝင်သဘာဝပတ်ဝန်းကျင်လေ့လာမှုများကို စနစ်တကျစီမံဆောင်ရွက်ပြီး စက်ရုံတည်ရှိခြင်းကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ရှိ/ မရှိ စူးစမ်းလေ့လာကာ ဆိုးကျိုးသက်ရောက်မရှိစေရေးနှင့် မလွဲမရှောင်နိုင်၍ ရှိလာပါကလည်း အနည်းဆုံးဖြစ်စေရန် စီမံဆောင်ရွက်သွားပါမည်။

## (၇) လူမှုပတ်ဝန်းကျင်အားထိခိုက်မှုရှိ/ မရှိစူးစမ်းလေ့လာခြင်း

အောက်ပါအတိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(က) စက်ရုံတည်ဆောက်လည်ပတ်မှုကြောင့်ရရှိနိုင်မည့် လူမှုအကျိုးစီးပွားများကို လေ့လာသွားပါမည်။ ထိုသို့စူးစမ်းလေ့လာရာ၌ (၁)ဒေသအတွင်း လျှပ်စစ်စွမ်းအင်ရရှိစေခြင်း (၂)ဒေသခံများအားအလုပ်အကိုင်ရရှိစေခြင်း(၃) နိုင်ငံတော်အတွက် အခွန်အခရရှိစေ ခြင်း(၄) ဒေသတွင်းကျန်းမာရေး၊ ပညာရေး၊ လူမှုရေးနှင့် စီးပွားရေးအကျိုးအမြတ်ရရှိစေခြင်းတို့ကို လေ့လာစူးစမ်းမှတ်တမ်းပြုသွားပါမည်။

(ခ ) စက်ရုံတည်ဆောက်လည်ပတ်မှုကြောင့် ဖြစ်ပေါ်လာသော လူမှုပတ်ဝန်းကျင်အတွက် ဆိုးကျိုးများကိုလည်းလေ့လာသွားပါမည်။ထိုသို့လေ့လာရာ၌(၁)လေထုညစ်ညမ်းမှု(Air Pollution) ကြောင့် ကျန်းမာရေးထိခိုက်နိုင်မှုများ (၂)ရေထုညစ်ညမ်းမှုကြောင့် (Water Pollution) ကြောင့်ဖြစ်ပေါ်နိုင်သည့် ဆိုးကျိုးများ (၃) စက်ရုံမှ ထွက်ပေါ်လာမည့်စက်လည်ပတ်သံကြောင့်ပတ်ဝန်းကျင်ရှိ လူနှင့်တိရစ္ဆာန်များအပေါ် အကျိုးသက်ရောက်နိုင်မှု ရှိ/ မရှိ စသည်တို့ကိုလေ့လာပြီး လိုအပ်သည့်ကာကွယ်မှုများအား စနစ်တကျစီမံဆောင်ရွက်သွားမည်။

**(၈) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့်အညီဆောင်ရွက်ခြင်း**

သန်းဖြိုးသူစက်ရုံအနေဖြင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန်အတွက် ခေတ်မီကျောက်မီးသွေးပြာဖမ်းစက်တပ်ဆင်အသုံးပြုခြင်း၊ ဆာလဖာဒိုင်အောက်ဆိုဒ်($SO_2$)အထွက်နည်းစေရန် စီမံထားခြင်း၊ စံချိန်မီမီးခိုးခေါင်းတိုင်တပ်ဆင်ထားရှိခြင်း၊ သစ်တောစိုက်ခင်းများထူထောင်ပေးထားခြင်း၊ သိပ္ပံပညာရှင်များပါဝင်သောအဖွဲ့များဖြင့် သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ သုတေသနပြုလေ့လာစမ်းစစ်ခြင်းများပြုလုပ်ရန် စီမံထားရှိပါသည်။ ထို့အပြင် ကော့သောင်းမြို့ရှိ မြန်မာ့စီးပွားရေးဘဏ်တွင်လူမှုဖူလုံရေးနှင့် ကျန်းမာရေးစောင့်ရှောက်မှုရန်ပုံငွေအတွက် ငွေစာရင်းဖွင့်လှစ်ထားရှိပြီး နှစ်စဉ်အမြတ်ငွေ၏(၃%)ကိုအပ်နှံထားရှိပါမည်။ ပတ်ဝန်းကျင်ထိခိုက်နစ်နာမှုများရှိပါက သင့်တင့်မျှတသောပမာဏအထိ လျော်ကြေးပေးအပ်သွားမည်ဖြစ်ပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံဆောင်ရွက်ထားရှိမှုများအား တာဝန်ရှိသူများ၏ လာရောက်စစ်ဆေးမှုကို ခံယူသွားမည်ဖြစ်ပါသည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့

စာအမှတ်၊ရက-၆(က)/မ-၁၂၀၉/၂၀၁၁(၁၅၇၃၁)
ရက်စွဲ၊၂၀၁၁ ခုနှစ်၊ဒီဇင်ဘာ လ ၁၅ ရက်

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ သို့ တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူသတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့၊ ရွှေပြည်သာရပ်၊ ရန်ကြီးအောင်လမ်း၊ ကွင်းအမှတ်(၉၆ရွှေပြည်သာ)၊ ဦးပိုင်အမှတ်(၁၇၅/၁၇၆) တွင် ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှတစ်ဆင့် ရင်းနှီးမြှုပ်နှံသူ ဦးကျော်လွင်(အဘ-ဦးအလင်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါ သည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏ မှာ အမေရိကန် ဒေါ်လာ (၆.၃၈)သန်း အပါအဝင် စုစုပေါင်း ကျပ်(၉၄၃၂.၆၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ပြည်တွင်းချေးငွေ ကျပ်(၃၀၀၀.၀၀) သန်း ပါဝင်ပါသည်။အဆိုပြုလုပ်ငန်း တွင် အသုံးပြုမည့် စက်ပစ္စည်း၊ ယာဉ်ယန္တရားများ တန်ဘိုး အမေရိကန်ဒေါ်လာ (၆.၃၈)သန်းဘိုးအား ဝန်ကြီးဌာန၊ သွင်းကုန်လိုင်စင် ခွင့်ပြုချက်များရယူပြီး မှ ထိုင်းနိုင်ငံ၊တရုတ်ပြည်သူ့သမ္မတနိုင်ငံတို့မှတင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | US$ (သန်း) | ကျပ်(သန်း) | ပြည်တွင်းချေးငွေ (ကျပ်/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|---|---|
| (က) | ငွေသား | ၀.၃၀ | ၆၁၄.၀၀ | | ၈၅၇.၂၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၆.၀၇ | ၃၁၅.၀၀ | | ၅၁၇၃.၄၀ |
| (ဂ) | အဆောက်အဦ | | ၃၂၂.၀၀ | ၂၀၀၀.၀၀ | ၂၃၂၂.၀၀ |
| (ဃ) | ပရိဘောဂ | | ၅၀.၀၀ | | ၅၀.၀၀ |
| (င) | ကုန်ကြမ်း | | ၃၀.၀၀ | ၁၀၀၀.၀၀ | ၁၀၃၀.၀၀ |
| | | ၆.၃၈ | ၁၃၃၁.၀၀ | ၃၀၀၀.၀၀ | ၉၄၃၂.၆၀ |

၃။ အဆိုပြု လုပ်ငန်း မှ ပုံမှန်နှစ် (၇နှစ်မြောက်)တွင် ဓါတ်အား ကီလိုဝပ် သန်းပေါင်း (၄၇,၂၀၀,၀၀၀)ကို ထုတ်လုပ် ဖြန့်ဖြူးရောင်းချနိုင်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်းမှထွက်ရှိမည့် ဓါတ်အားများကို တစ်ကီလိုဝပ်လျှင် ကျပ်နှစ်ရာ(၂၀၀ကျပ်) နှုန်းဖြင့် အောက်ပါ ဒေသများသို့ ဖြန့်ဖြူးရောင်းချမည် ဖြစ်ကြောင်းတင်ပြထားပါသည်-

(က) ရွှေပြည်သာ(ကော့သောင်း)

(ခ) အေးရိပ်ငြိမ်(ကော့သောင်း)

(ဂ) ရွှေဇင်ယော်(ကော့သောင်း)

(ဃ) ရွှေဟသ်ာ(ကော့သောင်း)

(င) ပိတောက်ရွှေဝါ(ကော့သောင်း)

(စ) အင်္ဂတ္တဝါ(ကော့သောင်း)

(ဆ) ဘုရင့်နောင်(ကော့သောင်း)

(ဇ) အောင်သုခ(ကော့သောင်း)

(ဈ) အေးမြကန်သာ(ကော့သောင်း)

(ည) သီရိမြိုင်(ကော့သောင်း)

(ဋ) ရွှေပြည်စိုး(ကော့သောင်း)

(ဌ) (၁၀)မိုင်ကျေးရွာ(ကော့သောင်း)

(ဍ) ပုလုံးတုံးလုံး(ကော့သောင်း)

၅။ **စိစစ်တင်ပြချက်**

- အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူသတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း အတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား နှင့်အညီ ချုပ်ဆိုထားသည့် BOTစာချုပ် မူကြမ်း တင်ပြထားပါသည်။

၆။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံး လုပ်နည်း နှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)
(သန့်စင်ကြိုင်၊အတွင်းရေးမှူး)

မိတ္တူ - ရုံးလက်ခံ



Than Phyo Thu IICPT memo.doc

အလျှင်အမြန်

<u>လျှို့ဝှက်</u>

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့**

စာအမှတ်၊ရကက-၆(က)/မ-၁၂၀၉ / ၂၀၁၁(၁၅၈၇၄)

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ဒီဇင်ဘာလ ၂၀ ရက်

အကြောင်းအရာ။ **အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူသတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့၊ ရွှေပြည်သာရပ်၊ ရန်ကြီးအောင်လမ်း၊ ကွင်းအမှတ်(၄၃ ရွှေပြည်သာ)၊ ဦးပိုင်အမှတ်(၁၇၅/၁၇၆) တွင် ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တစ်ဆင့် ရင်းနှီးမြှုပ်နှံသူ ဦးကျော်လွင်(အဘ-ဦးအလင်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါ သည်။

၂။ ယင်းအဆိုပြု တင်ပြချက်အပေါ် ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ပြီး လိုအပ်ချက်များအား စိစစ်ဆဲ ဖြစ်ပါသဖြင့် (၂၃-၁၂-၂၀၁၁)နေ့တွင် ကျင်းပပြုလုပ်မည့် ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေ မြှင့်တင်ရေးအဖွဲ့၏ (၂၂/၂၀၁၁) အစည်းအဝေး သို့ တင်ပြရန် ရည်ရွယ်ထားပါသည်။

၃။ သို့ပါ၍ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းနှင့် စပ်လျဉ်း ၍ မြေ/အဆောက်အဦ တန်ဖိုး၊ ဈေးငွေဆိုင်ရာ ကိစ္စရပ်များ၊ အခွန်ကိစ္စရပ်များ၊ ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးမှု လုပ်ငန်းဆိုင်ရာ ကိစ္စရပ်များ၊ နည်းပညာပိုင်းဆိုင်ရာ ကိစ္စရပ်များအစရှိသည် တို့ကို ကြိုတင် စိစစ်နိုင်ပါရန် ပေးပို့ အပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)

(သန့်စင်ကြိုင်အတွင်းရေးမှူး)

<u>လျှို့ဝှက်</u>

than phyo thu (iicpt)

**ဖြန့်ဝေခြင်း**

၁။ ဦးအေးကို — အဖွဲ့ခေါင်းဆောင်
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၂။ ဦးအောင်နိုင်ဦး — ဒုတိယအဖွဲ့ခေါင်းဆောင်
ဒုတိယညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၃။ ဒေါ်မြသူဇာ — အဖွဲ့ဝင်
အကြံပေး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၄။ ဦးကျော်ဒွန်း — အဖွဲ့ဝင်
အကြံပေး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၅။ ဒေါက်တာဝါဝါမောင် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၊
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၆။ ဦးကိုကိုလတ် — အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန၊
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။

၇။ ဦးဝင်းနိုင် အဖွဲ့ဝင်
လက်ထောက်ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန၊
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။

၈။ ဒေါ်မြသူဇာ အဖွဲ့ဝင်
လက်ထောက်ညွှန်ကြားရေးမှူး
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၊
ဆောက်လုပ်ရေးဝန်ကြီးဌာန။

၉။ ဦးလှထွန်း အဖွဲ့ဝင်
လက်ထောက်ညွှန်ကြားရေးမှူး
ကုန်သွယ်ရေးဦးစီးဌာန၊
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။

၁၀။ ဦးသန့်စင်ကြိုင် အတွင်းရေးမှူး
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

**အဆိုပြုလုပ်ငန်းနှင့်သက်ဆိုင်သည့်ဌာနဆိုင်ရာများ**

၁။ ညွှန်ကြားရေးမှူးချုပ်
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊
အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန။

မိတ္တူ - ရုံးလက်ခံ/မျှောစာတွဲ။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၂၀၉/၂၀၁၁(၁၆၃၃၇-)ဃ
ရက်စွဲ၊၂၀၁၁ ခုနှစ်၊ဒီဇင်ဘာ လ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူသတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူသတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့၊ ရွှေပြည်သာရပ်၊ ရန်ကြီးအောင်လမ်း၊ ကွင်းအမှတ်(၆၉ရွှေပြည်သာ)၊ ဦးပိုင်အမှတ်(၁၇၅/၁၇၆) တွင် ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှတစ်ဆင့် ရင်းနှီးမြှုပ်နှံသူ ဦးကျော်လွင်(အဘ-ဦးအလင်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါ သည်။

၂။ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်းသည် နိုင်ငံအတွင်း လိုအပ်သောလျှပ်စစ်ဓါတ်အား ကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် တိုင်းရင်းသား လုပ်ငန်းရှင် အနေဖြင့် ငွေကြေး အပြောက်အမြား ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော် ဆောင်ရွက်သည့် လုပ်ငန်း ဖြစ်သည့်အတွက် စီမံကိန်း အား အောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက် နိုင်စေရန် နှင့် တိုင်းရင်းသားလုပ်ငန်းရှင်ဖြစ်၍ စီးပွားရေးတွက်ချေကိုက်ရန် ၊ မနစ်နာစေရန် အောက်ပါအချက်များကို ခွင့်ပြုပေးပါရန် BOT စနစ် လုပ်ငန်း အဆိုပြုလွှာနှင့် အတူ အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ ထောက်ခံ တင်ပြထား ပါသည် -

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်အား ပထမ (၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန် နှင့် ယင်းကာလ ပြည့်ပြီးနောက် (၁၀)နှစ်အထိ (၅၀) ရာခိုင်နှုန်း သက်သာခွင့် ပြုပါရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအား နှစ် (၆၀) ခွင့်ပြုပေးပါရန်နှင့် ယင်းကာလ ပြည့်ပြီးနောက် လုပ်ငန်း ဆက်လက်လုပ်ကိုင်ခွင့်ကို (၅)နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့် လုပ်ကိုင်ခွင့်ပြုပါရန်၊

(ဂ) တည်ဆောက်ရေး ကာလတွင် အသုံးပြုရန် အတွက် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဥ် နှင့် အခြားဆက်စပ်ပစ္စည်းများအား သတ်မှတ်ဥပဒေနှင့်အညီ တင်သွင်းခွင့်ပြုပါရန်၊

၃။ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း နှင့် စပ်လျဥ်း၍ အောက်ပါဌာနများ ၏ သဘောထား မှတ်ချက်များကို ပူးတွဲတင်ပြထားပါသည်။

(က) **ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်**

(၁) စာချုပ်မူကြမ်းအပိုဒ် ၇(ဆ)နှင့်၈(ဗ)တွင် ကျောက်မီးသွေးသုံး ဓါတ်အား ပေးစက်ရုံ စီမံကိန်းအတွက် သန်းဖြိုးသူကုမ္ပဏီ သည် ပြည်တွင်း/ ပြည်ပ ချေးငွေရယူရေး ဆောင်ရွက်နိုင်ကြောင်း ဖော်ပြထားရာ စာချုပ် မချုပ်ဆိုမီ ကပင် စီမံကိန်းကုန်ကျစရိတ်၊ ချေးငွေမည်မျှရယူမည်၊ ချေးငွေမည်သို့ ပြန်လည် ပေးဆပ်မည်ကို ကြိုတင်ညှိနှိုင်း ဖော်ပြသင့်ကြောင်း

(၂) ပဋိညာဥ်စာချုပ်(မူကြမ်း)၏အပိုဒ်(၁၂)လုပ်ငန်းတန်ဖိုးတွင် "လျှပ်စစ်စီမံကိန်း" ၏ ခန့်မှန်းတန်ဘိုး ကုန်ကျစရိတ် စုစုပေါင်း ပြည်တွင်းသုံးငွေ နှင့် နိုင်ငံခြားသုံး ငွေ တို့ကို ဖော်ပြခြင်းမရှိပါ၍ ထည့်သွင်းဖော်ပြသင့်ကြောင်း၊

(၃) စာချုပ်(မူကြမ်း)မှာ ရေအားလျှပ်စစ်ဦးစီးဌာန နှင့် သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ BOTစနစ်ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်မည့် ပဋိညာဥ်စာချုပ် (မူကြမ်း) ဖြစ်၍ မြန်မာ့ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြ အတည်ပြုချက် ရယူရန်လိုအပ်ကြောင်း၊

(၄) "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များခေါင်းစဥ်အောက်ရှိ အပိုဒ်(၇)၊ အပိုဒ် ခွဲငယ်(င)တွင်"လုပ်ငန်းခွင့်ပြုသူသည် လျှပ်စစ်စီမံကိန်း အတွက် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂နှင့်၁၃ တို့အရ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ဆောင်ရွက်ပေးရမည်" ဟု ဖော်ပြထားချက်များ အပေါ် သဘောထား မှတ်ချက်ပြုရန်မရှိပါကြောင်း၊

(၅) သို့ရာတွင် စီမံကိန်း အကောင်အထည်ဖော်ရာ တွင် သန်းဖြိုးသူသတ္တု လုပ်ငန်း ကုမ္ပဏီလီမိတက် က ပစ္စည်းဝယ်ယူခြင်း နှင့် တစ်ဆင့်ခံ ငှားရမ်းလုပ်ကိုင် စေသည့် လူပုဂ္ဂိုလ်နှင့် အဖွဲ့အစည်းများသို့ ပေးချေငွေများ အပေါ်တွင် လည်း ကောင်း၊ ပြည်ပမှချေးငွေ ယူလုပ်ကိုင်ခြင်း ဖြစ်ပါက ပြန်လည် ပေးဆပ်ရမည့် အတိုးငွေ အပေါ်တွင် လည်းကောင်း၊ ပင်ရင်းမှ နှုတ်ယူပေးသွင်းသည့် ဝင်ငွေခွန်(Withholding Tax) ကို သတ်မှတ်နှုန်းဖြင့် နှုတ်ယူပေးသွင်းရန် တာဝန်ရှိပါသည်။ ထို့အပြင် စီမံကိန်းအတွက် ပြည်တွင်းပြည်ပ မှ အတိုင်ပင်ခံ

များ၊ ကျွမ်းကျင်သူများ၊ ဝန်ထမ်းများ ငှားရမ်းခြင်း အတွက် ယင်းတို့၏ လစာ အပေါ် မှ ဝင်ငွေခွန် နှုတ်ယူပေးသွင်းရန် လည်းကောင်း၊ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း အတွက် ရောင်းရငွေ အပေါ် ကုန်သွယ်လုပ်ငန်းခွန် နှင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး နောက်လုပ်ငန်း မှ အသား တင်အမြတ်ငွေ အပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ အမိန့်ကြော်ငြာစာများ နှင့်အညီ ပေးဆောင်ရန် လည်းကောင်း လိုအပ်မည် ဖြစ်ကြောင်း

(ခ) **ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်**

(၁) စာချုပ်(မူကြမ်း)နိဒါန်းအပိုဒ်တွင် လုပ်ငန်းတည်နေရာအား တနင်္သာရီတိုင်း၊ ကော့သောင်းမြို့နယ် ဟုသာ ဖော်ပြထားသဖြင့် စာချုပ် ချုပ်ဆိုချိန်တွင် လုပ်ငန်း တည်နေရာအား တိကျစွာ ဖော်ပြရန်လိုအပ်ပြီး၊ လုပ်ငန်းတည်နေရာ ပြ မြေပုံကို နောက်ဆက်တွဲအဖြစ် ပူးတွဲဖော်ပြသင့်ကြောင်း၊

(၂) စာချုပ်(မူကြမ်း)အပိုဒ်၁ အဓိပ္ပါယ်ဖွင့်ဆိုချက်များ ၏ အပိုဒ်ခွဲ(ဇ) ၌ လျှပ်စစ် ဓါတ်အား စီးပွားဖြစ်စတင် ထုတ်လုပ်ဖြန့်ဖြူးခြင်း နှင့် စပ်လျဉ်း၍ ဖော်ပြ ထားရာတွင် လုပ်ငန်းစတင် ဆောင်ရွက်သည့် နေ့မှ မည်သည့် ကာလအကြာ တွင် လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင်ထုတ်လုပ်မည် ကို ကာလ သတ်မှတ် ဖော်ပြရန် သင့်-မသင့် ဌာနမှ စဉ်းစားသင့်ကြောင်း

(၃) စာချုပ်(မူကြမ်း) အပိုဒ်၅ တွင် မြေအသုံးချမှု ပရိမီယံကြေး ပါရှိသော်လည်း မြေ ငှားရမ်းခ မပါရှိသဖြင့် ဌာနအနေဖြင့် ရယူလိုခြင်း ရှိ-မရှိ စဉ်းစား သင့် ပါကြောင်း၊

(သောက်ရေခပ် အဆိုပြုချက်တွင် မြေငှားရမ်းခကို မကောက်ခံကြောင်း အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ဖော်ပြခဲ့ပါ သည်။)

(၄) စာချုပ်(မူကြမ်း)တွင် လုပ်ငန်း အာမခံငွေ ရယူထားခြင်း မရှိသဖြင့် လုပ်ငန်း အာမခံ ရယူရန် သင့်-မသင့် ဌာနမှ စဉ်းစားသင့်ပါကြောင်း၊ လုပ်ငန်း အာမခံ ငွေထားရှိလျှင် ယင်း၏ ဘဏ်အာမခံပုံစံအား စာချုပ်တွင်ပူးတွဲပါရှိရန်နှင့် ဘဏ်အာမခံ ပုံစံမှာ စာချုပ်ပါစည်းကမ်းချက်များနှင့် ကိုက်ညီရန် လိုအပ်ပါ ကြောင်း၊

(သောက်ရေခပ် အဆိုပြုချက်တွင် အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အာမခံငွေ ရယူခဲ့ခြင်း မရှိပါ)

(၅) စာချုပ်(မူကြမ်း)အပိုဒ် ၆ တွင် စံချိန်စံညွှန်းနှင့် စပ်လျဉ်း၍ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းဟု ဖော်ပြထားရာ နောင် အငြင်းမပွားစေရန် စံချိန်စံညွှန်းအား စာချုပ်တွင်နောက်ဆက်တွဲဖြင့် ဖော်ပြသင့် ပါကြောင်း၊

(၆) စာချုပ်(မူကြမ်း)အပိုဒ် ၁၉ ပဋိညာဉ်စာချုပ်ကိုရုပ်စဲခြင်း၊ အပိုဒ် ၁၉(ဃ) တွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်များ (၁၂)လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း ဟု ဖော်ပြ ထားရာ မလွန်ဆန်နိုင် သော ဖြစ်ရပ် များ ဆက်တိုက် ဖြစ်ပေါ် သည့် ကာလ "၁၂ လမှာ ကြာမြင့်သည်" ဟု ယူဆ၍ "ဌာနမှ ပြန်လည်စဉ်းစားသင့် ပါကြောင်း၊"

(၇) စာချုပ်(မူကြမ်း)အပိုဒ် ၂၃ စာချုပ်စတင် အကျိုးသက်ရောက်သည့် နေ့နှင့် သက်တမ်း ကာလ ၊ အပိုဒ်ခွဲ ၂၃(ခ)တွင် ရေးသားဖော်ပြထားမှုမှာ "ရှင်းလင်းမှု မရှိသဖြင့်" "ဌာနမှ ပြန်လည် စိစစ်သင့်ပါကြောင်း၊"

(ဂ) **အမျိုးသားစီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှု ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်**

(၁) စာချုပ်(မူကြမ်း)ပါ ကျွမ်းကျင်မှု ဆိုင်ရာ သတ်မှတ်ချက်များ နှင့် စပ်လျဉ်း၍ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနမှ "စိစစ်ရန် " ဖြစ်ကြောင်း၊

(၂) စာချုပ်(မူကြမ်း) အရ လျှပ်စစ်ဓါတ်အား ထုတ်လုပ်မှု လုပ်ကိုင် ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ၊ နိုင်ငံပိုင် စီးပွားရေး လုပ်ငန်းများဥပဒေ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်း များနှင့် အညီ ဆောင်ရွက်ရန် ဖြစ်ပါကြောင်း ပြန်ကြား ထားပါ သည်။

၄။ တနင်္သာရီ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့တွင် (၈)မဂ္ဂါဝပ် အင်အားရှိသော ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ တည်ဆောက်ခြင်း စီမံကိန်း အကောင်အထည်ဖော်ခွင့် ပြုပါရန် တင်ပြချက်အပေါ်(၇-၁၂-၂၀၁၁)နေ့တွင် ကျင်းပသည့် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ်(၁၅/၂၀၁၁) ဆုံးဖြတ်ချက်အပိုဒ်(၆၉)အရ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားစာ တင်ပြထားပါသည်။ နောက်ဆက်တွဲ(က)

၅။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ သန်းဖြိုးသူ သတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် နှင့် တို့ ချုပ်ဆိုထားသည့် BOT ပဋိညာဉ်စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) BOT ပဋိညာဥ်စာချုပ် သက်တမ်းကာလမှာ လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင် ထုတ်လုပ် ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှ စ၍ "နှစ် (၆၀) ဖြစ်ပြီး နောက်ထပ် (၅)နှစ်(တစ်)ကြိမ်စီဖြင့် (၃)ကြိမ် " သက်တမ်းတိုးမြှင့်နိုင်သည်။

(ခ) စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်းဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေး စက်များ အနက် ပထမဆုံး စက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် ထုတ်လုပ်ရောင်းချ ပေးခြင်းကို ဆိုလိုသည်။

(ဂ) BOT ပဋိညာဥ်စာချုပ် လက်မှတ်ရေးထိုးသည့် နေ့ကို လုပ်ငန်းစတင်သည့် နေ့ဟု သတ်မှတ်ပြီး၊ တည်ဆောက်ရေးကာလမှာ လုပ်ငန်းစတင်သည့်နေ့မှ (၃)နှစ် ဖြစ်ပါ သည်။

(ဃ) မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀) နှင့် စပ်လျဥ်း၍ BOT ပဋိညာဥ် စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) ကိုလည်းကောင်း၊ တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ် ဓါတ်အား စီးပွားဖြစ် စတင် ထုတ်လုပ် နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀)ကို လည်းကောင်း ပေးအပ် ရပါ မည်။

(င) သန်းဖြိုးသူသတ္တု လုပ်ငန်း ကုမ္ပဏီလီမိတက် သည် လျှပ်စစ်စီမံကိန်း အတွက် ပြည်တွင်း/ ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာ ဌာန အဖွဲ့အစည်းများ နှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်း သတ်မှတ် ချက်များ၊ ချေးငွေ အတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့် အညီ တိတိကျကျ လိုက်နာဆောင်ရွက်ရပါမည်။

(စ) ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း မှ လျှပ်စစ် ဓါတ် အား ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ကို နိုင်ငံတော်/ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ အခါအားလျော် စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက် များနှင့်အညီ ဖြန့်ဖြူး ရောင်းချရပါမည်။

(ဆ) စာချုပ်ရပ်စဲသည့်အခါ သို့မဟုတ် စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာ ကာလအတွင်း စာချုပ်ပါ မြေနှင့်လျှပ်စစ်စီမံကိန်း၌ ရင်းနှီးမြှုပ်နှံထားသော ပစ္စည်း များ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အဦများကို လုပ်ငန်းလုပ်ကိုင်သူ (ကုမ္ပဏီ)က ကောင်းမွန်စွာထိန်းသိမ်းထားသောအနေအထားအတိုင်း အဖိုးစားနား မပါဘဲ လုပ်ငန်းခွင့်ပြုသူ (ဌာန) ထံ လွှဲပြောင်းပေးရပါမည်။

၆။ စာချုပ်(မူကြမ်း)အား ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ ရှေ့နေချုပ်ရုံးသဘောထား မှတ်ချက် တို့နှင့်အညီ ပြင်ဆင်ပြီး တင်ပြလာခြင်းဖြစ်ပါသည်။

၇။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(ခ)ဖြင့် တင်ပြထားပါသည်။အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏ မှာ အမေရိကန် ဒေါ်လာ (၆.၃၈)သန်း အပါအဝင် စုစုပေါင်း ကျပ် (၉၄၃၂.၆၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ပြည်တွင်းချေးငွေ ကျပ်(၃၀၀၀.၀၀) သန်း ပါဝင်ပြီး မွေးမြူရေး နှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ် မှ(၃၃%)အတိုးဖြင့် ရယူမည် ဖြစ်ကြောင်း တင်ပြထားပါ သည်။ အဆိုပြုလုပ်ငန်း တွင် အသုံးပြုမည့် စက်ပစ္စည်း၊ ယာဥ်ယန္တရားများ တန်ဘိုး အမေရိကန် ဒေါ်လာ (၆.၃၈)သန်းဘိုးအား ဝန်ကြီးဌာန၊ သွင်းကုန်လိုင်စင် ခွင့်ပြုချက်များရယူပြီး မှ ထိုင်းနိုင်ငံ၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံ တို့မှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | US$ (သန်း) | ကျပ်(သန်း) | ပြည်တွင်းချေးငွေ (ကျပ်/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|---|---|
| (က) | ငွေသား | ၀.၃၀ | ၆၁၄.၀၀ | | ၈၅၇.၂၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၆.၀၇ | ၃၁၅.၀၀ | | ၅၁၇၃.၄၀ |
| (ဂ) | အဆောက်အဦ | | ၃၂၂.၀၀ | ၂၀၀၀.၀၀ | ၂၃၂၂.၀၀ |
| (ဃ) | ပရိဘောဂ | | ၅၀.၀၀ | | ၅၀.၀၀ |
| (င) | ကုန်ကြမ်း | | ၃၀.၀၀ | ၁၀၀၀.၀၀ | ၁၀၃၀.၀၀ |
| | | ၆.၃၈ | ၁၃၃၁.၀၀ | ၃၀၀၀.၀၀ | ၉၄၃၂.၆၀ |

၈။ အဆိုပြုလုပ်ငန်း၏ တပ်ဆင် စက်အင်အားမှာ (၈)မဂ္ဂါဝပ် ဖြစ်ပြီး ၊ ပုံမှန်နှစ် (၇နှစ်မြောက်) တွင် ထုတ်လုပ်နိုင်မည့် ဓါတ်အားပမာဏမှာ (၅၉,၀၀၀,၀၀၀) ကီလိုဝပ် နာရီသန်းပေါင်း ဖြစ်ပါသည်။ အဆိုပါ ထုတ်လုပ်နိုင်သည့် ဓါတ်အားပမာဏ၏ ၂၀% (၁၁,၈၀၀,၀၀၀) ကီလိုဝပ်နာရီသန်းပေါင်းမှာ လုပ်ငန်းတွင် ပြန်လည် အသုံးပြုခြင်းနှင့် ဓါတ်အား ဖြန့်ဖြူးရာ တွင် လျော့နည်းခြင်းတို့ဖြစ်ပါသည်။ ပုံမှန်နှစ် (၇နှစ်မြောက်)တွင် ရောင်းချနိုင်မှု (၄၇,၂၀၀,၀၀၀)ကီလိုဝပ် နာရီသန်းပေါင်း ကို တစ်ကီလိုဝပ်လျှင် (၂၀၀)ကျပ်နှုန်းဖြင့် အောက်ပါ ဒေသများသို့ ဖြန့်ဖြူးရောင်းချမည် ဖြစ်ကြောင်း တင်ပြထားပါသည်-

(က) ရွှေပြည်သာ(ကော့သောင်း)

(ခ) အေးရိပ်ငြိမ်(ကော့သောင်း)

(ဂ) ရွှေဇင်ယော်(ကော့သောင်း)

(ဃ) ရွှေဟသ်ာ(ကော့သောင်း)

(င) ပိတောက်ရွှေဝါ(ကော့သောင်း)

(စ) အဏ္ဏဝါ(ကော့သောင်း)

(ဆ) ဘုရင့်နောင်(ကော့သောင်း)

(ဇ) အောင်သုခ(ကော့သောင်း)

(ဈ) အေးမြကန်သာ(ကော့သောင်း)

(ည) သီရိမြိုင်(ကော့သောင်း)

(ဋ) ရွှေပြည်စိုး(ကော့သောင်း)

(ဌ) (၁၀)မိုင်ကျေးရွာ(ကော့သောင်း)

(ဍ) ပုလုံးတုံးလုံး(ကော့သောင်း)

၉။ လုပ်ငန်းမှ ပုံမှန်နှစ်(၇နှစ်မြောက်)တွင်ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည် -

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေ | ၉၄၄၀.၀၀ |
| (ခ) အသုံးစရိတ် | ၈၂၉၀.၆၃ |
| (ဂ) အသားတင်အမြတ် | ၁၁၄၉.၃၇ |

၁၀။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အရင်းကြေကာလ မတိုင်မီ "တစ်ဝက်နှုန်း" ပေးဆောင်ရန် ဖြစ်ပါသဖြင့် ဝင်ငွေခွန် (၁၅%) အတွက် ကျပ် (၂၀၂.၈၃) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် (၅%) အတွက် ကျပ် (၄၇၂.၀၀) သန်း ဖြစ်ပြီး၊ အရင်းကြေပြီး နောက်ပိုင်း ဝင်ငွေခွန် (၃၀%) အတွက် ကျပ် (၄၂၉.၀၀) သန်း နှင့် ကုန်သွယ် လုပ်ငန်းခွန် (၅%) အတွက် ကျပ် (၄၇၂.၀၀) သန်း တို့ ဖြစ်ပါသည်။

၁၁။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈) နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၆.၂၂) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်ရန် အတွက် တည်ဆောက်ရေး ကာလတွင် ပြည်တွင်းမှ ဝန်ထမ်း (၅၅)ဦး နှင့် စက်တပ်ဆင်မှုအတွက် ပြည်ပမှ ကျွမ်းကျင်သူ (၅)ဦးနှင့် ဓါတ်အားထုတ်လုပ်မှု အတွက် ပြည်ပမှကျွမ်းကျင်သူ(၅)ဦးအားအချိန်ပိုင်း ခန့်ထားမည် ဖြစ်ပါသည်။

၁၂။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် မွေးမြူရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေး ဘဏ်ရှိ ကုမ္ပဏီအမည်ဖြင့် စာရင်းဖွင့် ထားသော(၄-၁၀-၂၀၁၁)နေ့ရှိ ငွေလက်ကျန် (၉၉၈၇ကျပ်) နှင့် ကုမ္ပဏီ၏ ဒါရိုက်တာ ဦးစိုးသန်း အမည်ဖြင့် စာရင်းဖွင့်ထားသော(၄-၁၀-၂၀၁၁)နေ့ရှိ ငွေလက်ကျန်

ကျပ် (၈၀.၀၀)သန်းတင်ပြထားသဖြင့်သုံးစွဲမည့်ငွေ၏(၆%)ရှိပါသည်။ MICBရှိ ကုမ္ပဏီအမည်ဖြင့် စာရင်းဖွင့်ထားသော(၂၇-၁-၂၀၁၀) နေ့ ငွေလက်ကျန် အမေရိကန် ဒေါ်လာ (၄၉၉၁) တင်ပြထားသဖြင့်သုံးစွဲမည့် နိုင်ငံခြားငွေ၏(၀.၀၇%) ရှိပါသည်။

၁၃။ ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အတွက် ဝင်ငွေခွန် နှင့် ကုန်သွယ်လုပ်ငန်းခွန်အား လုပ်ငန်း စတင် လည်ပတ်သည့်နှစ်မှစ၍ ပထမ(၃)နှစ် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ အဆိုပါ ကင်းလွတ်ခွင့် ခံစားပြီးနောက် အရင်းကြေ ကာလ မတိုင်မီ ကာလများ အတွက် (၅၀)ရာခိုင်နှုန်း သက်သာခွင့် ကို လည်းကောင်း ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေငှားရမ်းခြင်းနှင့်စပ်လျဉ်း၍နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးဘေး အန္တရာယ်မဖြစ်ပွားစေရန်နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိအောင် ထိန်းသိမ်း သွားမည် ဖြစ်ကြောင်း၊ လျှပ်စစ်ဓါတ်အား ထွက်ရှိသည့်အခါ နိုင်ငံတော်မှ ချမှတ်သည့်စည်းမျဉ်းစည်းကမ်းနှင့်အညီ ဖြန့်ဖြူးရောင်းချမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၅။ **စိစစ်တင်ပြချက်။** မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ရေအားလျှပ်စစ်ထုတ်လုပ် ဖြန့်ဖြူး ရောင်းချရန် အောက်ပါကုမ္ပဏီ(၄)ခုကို ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပါသည်-

| စဉ် | ကုမ္ပဏီအမည် | ဆောင်ရွက်သည့်လုပ်ငန်း | ခွင့်ပြုမိန့်အမှတ်နှင့်နေ့စွဲ |
|---|---|---|---|
| (က) | ရွှေစွမ်းအင်ကုမ္ပဏီလီမိတက် | BOTစနစ်ဖြင့်သောက်ရေခပ် (၂)ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း | မနသ-၇၄၆/၂၀၁၀ (၅-၅-၂၀၁၀) |
| (ခ) | အနာဂါတ်စွမ်းအားကုမ္ပဏီလီမိတက် | BOTစနစ်ဖြင့်ဘီလူးချောင်း (၃)ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း | မနသ-၇၄၇/၂၀၁၀ (၅-၅-၂၀၁၀) |

| စဉ် | ကုမ္ပဏီအမည် | ဆောင်ရွက်သည့်လုပ်ငန်း | ခွင့်ပြုမိန့်အမှတ်နှင့်နေ့စွဲ |
|---|---|---|---|
| (ဂ) | သဘာဝစွမ်းအင်လှိုင်းကုမ္ပဏီလီမိတက် | BOT စနစ်ဖြင့် အညာဖျားချောင်းရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချ ခြင်းလုပ်ငန်း | မနသ-၇၈၃/၂၀၁၀ (၃-၂-၂၀၁၀) |
| (ဃ) | စွမ်းအားသစ်အိုအေစစ်ဖွံ့ဖြိုးတိုးတက်မှုကုမ္ပဏီလီမိတက် | BOT စနစ်ဖြင့် အထက် ဘီလူးချောင်းရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချ ခြင်းလုပ်ငန်း | မနသ-၇၈၄/၂၀၁၀ (၃-၂-၂၀၁၀) |

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များ ကိုလည်းကောင်း ခံစားခွင့် ပြုရပါမည်။

၁၇။ သို့ဖြစ်ပါ၍အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန နှင့် သန်းဖြိုးသူသတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက် တို့မှ ကော့သောင်း ကျောက်မီးသွေးသုံး ဓါတ်အားပေးစက်ရုံ စီမံကိန်း အား BOT စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စနှင့်စပ်လျဉ်း၍လမ်းညွှန်မှုခံယူအပ်ပါသည်။

အတွင်းရေးမှူး (ကိုယ်စား)
(အောင်နိုင်ဦး၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ



Than Phyo Thu (MICmemo)

နောက်ဆက်တွဲ(က)




တ န င်္သာ ရီ တိုင်း ဒေ သ ကြီးအ စိုး ရ အဖွဲ့ရုံး
ထားဝယ်မြို့
စာအမှတ်၊ ၃၂၈ဃ /၄၉၀/ ၄-၉၀/ အစရ(တနင်္သာရီ)
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

**အကြောင်းအရာ။ သန်းဖြိုးသူကုမ္ပဏီ၏ ကျောက်မီးသွေးဓါတ်အားပေး စက်ရုံတည်ဆောက်ရေး အတွက် သဘောထားပေးပို့ခြင်း**

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့တွင် (၈)မဂ္ဂါဝပ်အင်အားရှိသော ကျောက်မီးသွေးသုံးဓါတ်အားပေးစက်ရုံ တည်ဆောက်ခြင်းစီမံကိန်း အကောင်အထည်ဖော်ခွင့်ပြုပါရန် သန်းဖြိုးသူကုမ္ပဏီလီမိတက် မှ လျှောက်ထားလာခဲ့ပါသည်။

၂။ အဆိုပါ သန်းဖြိုးသူကုမ္ပဏီလီမိတက် မှ စက်ရုံတည်ဆောက်ခွင့် တင်ပြချက်အပေါ် (၇.၁၂.၂၀၁၁)ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ်(၁၅/၂၀၁၁) ဆုံးဖြတ်ချက်အပိုဒ်(၆၉)အရ ကန့်ကွက်ရန် မရှိပါကြောင်း ညှိနှိုင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(မျိုးအောင်ဌေး၊အတွင်းရေးမှူး)

မိတ္တူကို

သန်းဖြိုးသူကုမ္ပဏီလီမိတက်
အမှတ်(၇၈-အေ) အင်းလျားလမ်း၊ကမာရွတ်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး
လက်ခံစာတွဲ
မျှောစာတွဲ

Yu

DDG 3/14/12



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

M-348 14/12

စာအမှတ်၊ ၈၄ - လျှပ်စစ် ၁ (၂)/ ၆၁၈၆/၂၀၁၁။
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ ၇၄ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

<u>အမှာစာ</u>

အကြောင်းအရာ ။ **ကော့သောင်းကျောက်မီးသွေးသုံး ဓာတ်အားပေးစက်ရုံ စီမံကိန်းအား B.O.T (Build, Operate and Transfer) (တည်ဆောက်၊ မောင်းနှင်၊ လွှဲပြောင်းစနစ်ဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့်ပြုပါရန်ကိစ္စ**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံအတွင်းရှိ ရေအားသယံဇာတအရင်းအမြစ်များကို အကျိုးရှိစွာအသုံးချ၍ တိုးတက်လိုအပ်နေသော လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ရေအားလျှပ်စစ်စီမံကိန်းများကို အကောင်အထည်ဖော် ဆောင်ရွက်လျှက်ရှိရာတွင် ကျောက်မီးသွေးသုံးဓာတ်အားပေးစက်ရုံများလည်းပါဝင်လာလျှက်ရှိပါသည်။ ထိုသို့ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် "ပြည်တွင်း၊ ပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုး တိုးတက်အောင်တည်ဆောက်ရေး" ဟူသော နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်နှင့်အညီ ကျောက်မီးသွေးသုံးဓာတ်အားပေးစက်ရုံ စီမံကိန်းများအားလည်း အကျိုးတူပူးပေါင်း အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိပါသည်။

၂။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် သန်းဖြိုးသူသတ္တုလုပ်ငန်း ကုမ္ပဏီလီမိတက်တို့သည် တနင်္သာရီတိုင်း၊ ကော့သောင်းမြို့နယ်တွင် တပ်ဆင်စက်အင်အား(၈)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့်ဓာတ်အား ကီလိုဝပ်နာရီသန်းပေါင်း (၅၉) ထွက်ရှိမည့် ကော့သောင်းကျောက်မီးသွေးသုံးဓာတ်အားပေးစက်ရုံ စီမံကိန်းအား B.O.T. စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် လက်မှတ်ရေးထိုးမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) အား နှစ်ဖက်ညှိနှိုင်း ပြုစုခဲ့ကြပါသည်။

<u>သို့၂ဝက်</u>

